




USA

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် မနသ-၀၆၇/၉၇ ၁၉၉၇ ခုနှစ်၊ ဧပြီ လ ၂၄ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏အမည် ဦး ရဲနိုင်ဝင်း

(ခ) အဘအမည် ဦး ခင်ညွန့်

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် အေကဘီ-၂၁၄၄၂၈

(ဃ) နေရပ်လိပ်စာ ၇၀ (တ) ငွေဝတ်မှုံရပ်ကွက်၊ ရွှေတောင်ကြားရိပ်သာ၊ ဗဟန်းမြို့နယ်၊ ရန်ကုန်တိုင်း

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း မေခအင်ဒတ်စထရီ(စ်) လီမိတက် ( MayKha Industries Ltd )

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား တိရစ္ဆာန်နှင့် တိရစ္ဆာန်အစာအစာမှုန့်ထုတ်လုပ်ခြင်းလုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) ရွာသာကြီး ဘက်စုံမွေးမြူရေးစခန်း ၊ ဒဂုံမြို့သစ် တောင်ပိုင်း ၊ ရန်ကုန်တိုင်း။

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ၄၇.၀၇၂ (ကျပ်လေးဆယ့်ခုနစ်သန်း ခုနစ်သောင်း နှင့်နှစ်ထောင်တိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမိန့်ကြော်ငြာစာအမှတ်၊ ၁၄ /၉၇
ရန်ကုန်မြို့၊ ၁၃၅၉ ခုနှစ်၊ ဦးတန်ခူးလပြည့်ကျော် ၂၇ ရက်
(၁၉၉၇ ခုနှစ်၊ ဧပြီလ ၂၄ ရက်)

၁။ မြန်မာကုမ္ပဏီဖြစ်သော မေခအင်ဒတ်စထရီ(စ်)လီမိတက် ( Maykha Industries Ltd. ) မှ မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန၊ မွေးမြူရေး၊ အစားအစာနှင့်နို့ထွက်ပစ္စည်းလုပ်ငန်းပိုင်၊ ရန်ကုန်တိုင်း၊ ဒဂုံမြို့သစ်တောင်ပိုင်း၊ ရွာသာကြီးဘက်ရုံ မွေးမြူရေးခန်းရှိ မြေ(၄၃)ဧကခန့် (၁၇၄၀၁၄.၉၀ စတုရန်းမီတာ)နှင့်ယင်းမြေပေါ်ရှိအဆောက်အဦးများ၊စက်ရုံများကိုကနဦး(၂၁)နှစ်ငှားရမ်း၍ တိရစ္ဆာန်နှင့်တိရစ္ဆာန်အစားအစာများထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အား (၂၀-၃-၉၇) နေ့တွင်ကျင်းပပြုလုပ်သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၃/၉၇) ကြိမ်မြောက်အစည်းအဝေးသို့ တင်ပြခဲ့ရာ ကော်မရှင်မှ မူအားဖြင့်လက်ခံခဲ့ပြီး၊ အစိုးရအဖွဲ့သို့ဆက်လက်တင်ပြရန်ဆုံးဖြတ်ချက်နှင့်အညီ (၂-၄-၉၇) နေ့တွင်ကျင်းပပြုလုပ်သည့် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့၏ (၁၄/၉၇) ကြိမ်မြောက်အစည်းအဝေးသို့ ဒုတိယဝန်ကြီးချုပ်ရုံးမှတင်ပြခဲ့ရာ အစည်းအဝေးမှသဘောတူကြောင်းဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း(၅)၊ ပုဒ်မ ၁၀အရအပ်နှင်းထားသောလုပ်ပိုင်ခွင့်များကိုကျင့်သုံး၍ မေခအင်ဒတ်စထရီ(စ်)လီမိတက်( Maykha Industries Ltd. )အားတိရစ္ဆာန်နှင့်တိရစ္ဆာန်အစားအစာများထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ-၀၆၇/၉၇ ကိုထုတ်ပေးလိုက်သည်။

၂။ မေခအင်ဒတ်စထရီ(စ်)လီမိတက်(Maykha Industries Ltd. ) အနေဖြင့်၎င်းခွင့်ပြုမိန့်အရ တိရစ္ဆာန်နှင့်တိရစ္ဆာန်အစားအစာများထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း(၇)၊

ပုဒ်မ ၁၂ အရ ထုတ်လုပ်မှုလုပ်ငန်းစတင်သောနှစ်အပါအဝင်တစ်ဆက်တည်း (၃) နှစ် အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်နှင့် ဥပဒေပုဒ်မ ၁၃ ပါပြဌာန်းချက်များနှင့်အညီ အောက်ဖော်ပြပါအခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကို ခံစားခွင့်ပြုရန် ဤအမိန့်ကြော်ငြာစာကိုထုတ်ပြန်လိုက်သည်။

(က) ဥပဒေပုဒ်မ ၁၃ (က) အရ လုပ်ငန်း၏ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေပမာဏအပေါ် မူတည်၍ ဝင်ငွေခွန်သက်သာခွင့်ခံစားနိုင်ရန်အတွက် ကနဦးရင်းနှီးမြှုပ်နှံမှုကာလ အတွင်း နိုင်ငံခြားငွေဖြင့်ရင်းနှီးမြှုပ်နှံသည့်ပမာဏကို ဖော်ပြလျှက် လုပ်ငန်းအကောင်အထည်ဖော်မှုအခြေအနေ ပေါ်မူတည်၍ ကော်မရှင်သို့ လျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ ၁၃ (ခ) အရ လုပ်ငန်းမှ နိုင်ငံခြားငွေဖြင့် ရရှိသည့်အမြတ်ငွေအပေါ်တွင် (၅၀) ရာခိုင်နှုန်းအထိ ကာလ အကန့်အသတ်ဖြင့် ဝင်ငွေခွန်သက်သာခွင့်ကို ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် (၃) နှစ်ခံစားပြီးနောက် လုပ်ငန်း၏အမှန်တကယ် အကောင်အထည်ဖော်နိုင်မှုအခြေအနေကို ဖော်ပြလျှက်၍ ကော်မရှင်သို့တင်ပြ လျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃ (ဂ) အရ ပို့ကုန်ထုတ်လုပ်မှုလုပ်ငန်းကြောင့် သတ်မှတ်သည့်နှုန်းအထိပြည့်မွင်းပြည်ပဝင်ငွေတိုးတက်မှုရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန်သက်သာခွင့်ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလကုန်ဆုံးပြီးသည့်အခါ လုပ်ငန်းအကောင်အထည်ဖော်ဆောင်ရွက်နိုင်မှုအခြေအနေကို ဖော်ပြလျှက်၍ ကော်မရှင်သို့တင်ပြ လျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃ (စ) အရ လုပ်ငန်းမှရရှိသည့်အမြတ်ငွေကို သီးသန့်ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ပြန်လည်ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် ကာလကုန်ဆုံးပြီး၍ အမှန်တကယ်ပြန်လည်ရင်းနှီးမြှုပ်နှံမှုပြုသည့် အခါ လုပ်ငန်းအမှန်တကယ်အကောင်အထည်ဖော်နိုင်မှုအခြေအနေကို ဖော်ပြလျှက် ကော်မရှင်သို့တင်ပြ လျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၁၃ **(ဆ) အရ လုပ်ငန်းသုံးမတည်** ပစ္စည်းများအပေါ် တန်ဖိုးလျော့ငွေကို သတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုတိုနှင့် မူလတန်ဖိုးပြည့်မီသည်အထိ အမြတ်ငွေမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့နှုန်းထားများကို ကော်မရှင်သို့တင်ပြ လျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၁၃(င) အရ တနည်းရင်းနှီးမြှုပ်နှံမှုကာလအတွင်း ပြည်တွင်း၌မရရှိနိုင်သည့်အမှန်တကယ်လိုအပ်၍ ပြည်ပမှတင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာအစိတ်အပိုင်း လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင်အကောက်ခွန်နှင့် အခြားပြည်တွင်းအခွန်အကောက်များနှစ်မျိုးလုံးကိုကင်းလွတ်ခွင့်ပြုသည်။

(ဆ) ဥပဒေပုဒ်မ ၁၃(ဈ) အရ တနည်းရင်းနှီးမြှုပ်နှံမှုကာလကုန်ဆုံး၍ ပထမ (၃) နှစ်အတွက်ကုန်ထုတ်လုပ်ရန်တင်သွင်းသည့်လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင်အကောက်ခွန်နှင့်အခြားပြည်တွင်းအခွန်အကောက်များကိုကင်းလွတ်ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၃(င) အရပြည်ပမှတင်သွင်းသည့်စက်ပစ္စည်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်းလိုက်နာဆောင်ရွက်ရမည်။

(က) နိုင်ငံခြားငွေရရှိပုံနည်းလမ်း ( Source of Payments for Import ) ဥပမာ - ပြည်ပတင်ပို့မှုမှဝင်ငွေ၊ ပြည်ပချေးငွေ ( Loan and Credits ) ကုန်ပစ္စည်းပြန်လည်ဝယ်ယူသည့်စနစ် ( Buy-back System ) စသည်တို့ကိုဖော်ပြရန်။

(ခ) တင်သွင်းမည့်ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများသင့်မြတ်မှုရှိသည်ကိုနှင့်စပ်လျဉ်း၍ နိုင်ငံတကာ၌အသိအမှတ်ပြုထားသည့်စစ်ဆေးရေးကိုယ်စားလှယ် ( Inspection Agency ) ၏စစ်ဆေးမှုဖြင့်ဆောင်ရွက်ရန်။

(ဂ) စစ်ဆေးရေးကိုယ်စားလှယ်၏စစ်ဆေးပြီးကြောင်းအထောက်အထား ( Inspection Certificate ) ဖြင့်တင်သွင်းမည့်ပစ္စည်းအမျိုးအစားစာရင်း ( Invoice and Packing List ) များကို နိုင်ငံခြားမတည်ငွေရင်းတန်ဖိုးသတ်မှတ်ရေးအဖွဲ့ထံသို့ တင်ပြ၍ ထောက်ခံချက်ရယူရန်။

၄။ အဆိုပြုလုပ်ငန်းဆောင်ရွက်ရန်အတွက် မွေးမြူရေး၊ အစား အစာနှင့် နို့ထွက်ပစ္စည်းလုပ်ငန်းနှင့် မေခအင်ဒတ်စထရီ(စ်)လီမိတက် ( Maykha Industries Ltd. ) တို့အကြားချုပ်ဆိုမည့်ငှားရမ်းခြင်းသဘောတူစာချုပ်လက်မှတ်ရေးထိုးပြီးသည့်အခါ ယင်းသဘောတူစာချုပ်မိတ္တူ (၁) စောင်ကို ကော်မရှင်သို့တင်ပြရမည်။

၅။ အငှားစာချုပ်၏သက်တမ်းသည်အငှားစာချုပ်လက်မှတ် ရေးထိုးသည့် နေ့ရက်မှစ၍ (၂၅) နှစ်ဖြစ်ပြီး၊ ထပ်မံငှားရမ်းလိုပါက နောက်ထပ် (၅) နှစ် (၂) ကြိမ်အထိ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ဖြင့်သက်တမ်းတိုးမြှင့်နိုင်သည်။

၆။ ငှားရမ်းခများကိုစာချုပ်ချုပ်ဆိုသည့်နေ့မှစ၍ (၃) လတစ် ကြိမ် ကြိုတင် ပေးချေသည့်စနစ်ဖြင့် ပေးချေရမည်ဖြစ်ပြီး၊ ပထမ (၉) လအတွက်ငှားရမ်းခ များကိုစာချုပ်ချုပ်ဆိုသည့်နေ့မှစ၍ (၆) လအတွင်းတစ် ပေါင်းတည်းပေးချေရမည်။ ငှား ရမ်းခများကို (၅) နှစ်တစ်ကြိမ်လက်ရှိငှားရမ်းခ၏ ၁၅ ရာခိုင်နှုန်းထက်မပို စေဘဲ ပြန်လည်ညှိနှိုင်းရမည်။

၇။ မေခအင်ဒတ်စထရီ(စ်)လီမိတက်( Maykha Industries Ltd ) သည်လုပ်ငန်းများကိုအကောင်အထည် ဖော် ဆောင်ရွက်ရာတွင်လိုအပ် သော စီမံခန့်ခွဲ မှုကဏ္ဍအဝဝအတွက်ကျွမ်းကျင်သည့်စီမံခန့်ခွဲမှုအခ ကြေးငွေများကို မွေးမြူရေးအစားအစာ နှင့်နို့ထွက်ပစ္စည်းလုပ်ငန်းသို့နှစ်စဉ်ကျပ်တစ်သိန်းတိတိ ပေးသွင်းရမည်။

၈။ မေခအင်ဒတ်စထရီ(စ်)လီမိတက်(Maykha Industries Ltd ) သည်ငှားရမ်းခြင်းသဘောတူစာချုပ်လက်မှတ် ရေးထိုး ချုပ်ဆိုပြီးသည့် နေ့မှရက် ပေါင်း (၃၀) အတွင်းလုပ်ငန်းဆောင်ရွက်မှု၊ ဘဏ်အာမခံ ကြေးအဖြစ်စုစု ပေါင်းရင်း နှီး မြှုပ်နှံမှုပမာဏ၏ (၁) ရာခိုင်နှုန်းနှင့်ညီမျှသော ငွေကျပ် (၀.၄၇) သိန်းကို မွေး မြူရေး၊အစားအစာနှင့်နို့ထွက်ပစ္စည်းလုပ်ငန်းသို့ မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့် ကူး သန်းရောင်းဝယ်ရေးဘဏ်မှတစ်ဆင့် ပေးသွင်းရမည်။

၉။ အငှားစာချုပ်ရုပ်သိမ်းသည့်အခါ မေခအင်ဒတ်စထရီ(စ်) လီမိတက် ( Maykha Industries Ltd. )က (အနိုင်အမာတပ်ဆင်ထားသည့်အရာများအ ပါအဝင်) မြေ၊ အဆောက်အဦနှင့်စက်ရုံများကို မွေးမြူရေး၊ အစားအစာနှင့်နို့ထွက် ပစ္စည်းလုပ်ငန်းသို့အခမဲ့လွှဲပြောင်းပေးရမည်။

လျှို့ဝှက်



စာအမှတ်၊ ၇က-၁/မ-၀၉၆/၉၇(၁၁၇ )၊
ရက်စွဲ၊ ၁၉၉၇ ခုနှစ် ၊ ဧပြီလ ၂၄ ရက်။

ဖြန့်ဝေခြင်း။

၁။ နိုင်ငံတော်ငြိမ်ဝပ်ပိပြားမှုတည်ဆောက်ရေးအဖွဲ့ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော်ငြိမ်ဝပ်ပိပြားမှုတည်ဆောက်ရေးအဖွဲ့ရုံး။
၃။ အစိုးရအဖွဲ့ရုံး။
၄။ ဝန်ကြီးချုပ်ရုံး။
၅။ ဒုတိယဝန်ကြီးချုပ်ရုံး။
၆။ အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန။
၇။ ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာန။
၈။ စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန။
၉။ လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန။
၁၀။ အလုပ်သမားဝန်ကြီးဌာန။
၁၁။ မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန။
၁၂။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော်ဗဟိုဘဏ်။
၁၃။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတော်ငွေရင်းကန့်ဖိုးသတ်မှတ်ရေးအဖွဲ့ဝင်။
(ညွှန်ကြားရေးမှူးချုပ်၊ ပဟိုဘတ်ပနည်းမသရင်းအင်းနှင့်ပတ်သက်ရေးဦးစီးဌာန)
၁၄။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန။
၁၅။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့အာမခံလုပ်ငန်း။
၁၆။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန။
၁၇။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန။
၁၈။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဦးစီးဌာန။
၁၉။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားမှုဦးစီးဌာန။
၂၀။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မွေးမြူရေးအစားအစာနှင့်နို့ထွက်ပစ္စည်းလုပ်ငန်း။
၂၁။ ဥက္ကဋ္ဌ၊ ပြည်ထောင်စုမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်း။
၂၂။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန။
၂၃။ မန်းနေဂျင်းဒါရိုက်တာ၊ မေခအင်ဒတ်စထရီ(စ်)လီမိတက်။
(Maykha Industries Ltd)

အမိန့်အရ —

( မောင်ပေ[illegible]ရီ )
တွဲဖက်အတွင်းရေးမှူး။

လျှို့ဝှက်

* ဇန်၇-၄-၉၇။